MIC

ပြည်ထောင်စုမြန်မာနိုင်ငံတော်
စာအမှတ်.........
နေ့စွဲ...........
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၀၁/၉၄    ၁၉၉၄ ခုနှစ်၊ စက်တင်ဘာလ ၂၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဇော်မင်း

(ခ) အဘအမည် ဦးကြည်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် NBN-၀၀၃၂၀၁

(ဃ) နေရပ်လိပ်စာ ၃၉၊ ရှမ်းကုန်းလမ်း
မြို့နီကုန်းမြောက်ရပ်ကွက်၊ စမ်းချောင်းမြို့နယ်

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း
မင်္ဂလာကုမ္ပဏီလီမိတက်

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား
ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အမှတ် (၃၀) အင်းလျားမြိုင်လမ်း
ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့-

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၃၀ သန်း (ကျပ်သန်းသုံးဆယ်တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၅/၉၄

ရန်ကုန်မြို့၊ ၁၃၅၆ ခုနှစ်၊ တော်သလင်းလဆုတ် ၇ ရက်။

(၁၉၉၄ ခုနှစ်၊ စက်တင်ဘာလ ၂၆ ရက်)။

**မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မင်္ဂလာဥယျာဉ်ဟိုတယ်တည်ဆောက်ဖွင့်လှစ်လျက်ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုခြင်း**

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း -၅၊ ပုဒ်မ (၁၀) အရအပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရမှတ်ပုံတင်အမှတ် ၁၅၆/၁၉၉၀ဖြင့်တည်ထောင်ထားသောမင်္ဂလာကုမ္ပဏီလီမိတက်အား မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်မြို့၊ဗဟန်းမြို့နယ်၊ အင်းယားမြိုင်လမ်း၊ အမှတ် (၃၀) ရှိ မြေနှင့် အဆောက်အအုံကိုငှားရမ်းပြုပြင်တိုးချဲ့မွမ်းမံလျက် မင်္ဂလာဥယျာဉ်ဟိုတယ်အမည်ဖြင့် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းကိုဆောင်ရွက်နိုင်ရန်ခွင့်ပြုမိန့်အမှတ် မနသ-၀၀၁/၉၄ ကိုထုတ်ပေးလိုက်သည်။

၂။ မင်္ဂလာကုမ္ပဏီလီမိတက်အနေဖြင့် ဤခွင့်ပြုမိန့်အရ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းများ ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း -၇၊ ပုဒ်မ (၁၂) အရ၊ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း ၃ နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့်ဥပဒေပုဒ်မ (၁၃) ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(က)အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်ကိုခံစားခွင့်ပြုသည်။ အဆိုပါသက်သာခွင့်ကိုသတ်မှတ်ပေးနိုင်ရန်အတွက်ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျက် ကော်မရှင်သို့လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ခ)အရ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ်တွင် ၁၀ ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့်ဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန် အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကိုဖော်ပြလျက် ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(ဇ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌မရရှိနိုင်သည့် အမှန်တကယ်အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များနှစ်မျိုးလုံးကို ကင်းလွတ်ခွင့်ပြုသည်။

(ဃ) ဥပဒေပုဒ်မ-၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ကုန်ထုတ်လုပ်မှုဝန်ဆောင်မှုစတင်သည့် ပထမ ၃ နှစ်အတွက် ကော်မရှင်ကတင်သွင်းခွင့်ပြုသည့် စားသောက်ကုန်နှင့်အဖျော်ယမကာစသည်များ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်နှင့်ဝပ်လျှိုး၍အခြားလိုင်စင်ရဟိုတယ်များနည်းတူခံစားခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ (ဇ) အရ ပြည်ပမှတင်သွင်းသည့်ပစ္စည်းများ နှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။ -

(က) နိုင်ငံ ငွေရရှိပုံနည်းလမ်း ( Source payments for imports ) ဥပမာ - ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ဆောင်ရွက်မှုမှရရှိသည့်ဝင်ငွေ၊ ပြည်ပချေးငွေ ( loan and credits ) ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy-backs ) တို့ဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်း အမျိုးအစားစာရင်း ( Invoice and packing list ) များကို နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး ကော်မတီသို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်မြေနှင့်အဆောက်အအုံကိုငှားရမ်းခြင်း၊ မူလအဆောက်အအုံပြုပြင်ခြင်း၊ အဆောက်အအုံအသစ်တည်ဆောက်ခြင်း၊ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်း နှင့်လွှဲပြောင်းခြင်း ဆိုင်ရာသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီး သည့်အခါယင်း သဘောတူစာချုပ်မိတ္တူ (၃) စောင်ကို ကော်မရှင်သို့တင်ပြရမည်။

၅။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ကို ကော်မရှင်သို့အစီရင်ခံရမည်။

အမိန့်အရ -

(ဗိုလ်မှူးချုပ် အောဘယ်လ်)
အတွင်းရေးမှူး
[ဝန်ကြီး၊ အမျိုးသားစီမံကိန်း နှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန]



*၅၂၀/၉/၉၄။

စာအမှတ်၊ ၇က-၁/မ-၀၀၁ /၉၄(၀၉၁၉)။
ရက်စွဲ။ ၁၉၉၄ ခုနှစ်၊ စက်တင်ဘာလ ၂၆ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး ။

၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး ။

၃။ အစိုးရအဖွဲ့ရုံး ။

၄။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၅။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။

၆။ ကုန်သွယ်ရေးဝန်ကြီးဌာန။

၇။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန။

၈။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။

၉။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်။

၁၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။

၁၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း ။

၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန။

၁၅။ ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ
ညွှန်ကြားမှုဦးစီးဌာန။

၁၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှု
လုပ်ငန်းရှင်များအသင်း ။

၁၇။ မင်္ဂလာကုမ္ပဏီလီမိတက်၊ အမှတ် ၃၀၊ အင်းယားမြိုင်လမ်း ၊ ဗဟန်း
မြို့နယ်၊ ရန်ကုန်မြို့။

အမိန့်အရ -

(နိုင်နိုင်)
တွဲဖက်အတွင်းရေးမှူး ။